





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၅၈/၂၀၁၈ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၅၊ ပုဒ်မခွဲ(ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးဇော်မင်းသန့်

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အခန်း(၆)၊ တိုက်(ခ)၊ သဇင်လမ်း၊ (၉)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား လမ်းခင်းကျောက် အမျိုးမျိုး တူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မွန်ပြည်နယ်၊ သထုံခရိုင်၊ ပေါင်မြို့နယ်၊ ကုလားမတောင်ကြိုးဝိုင်း၊ အကွက်အမှတ်(၅၉)ရှိ မြေ ၅၀ ဧက

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၅,၈၃၆.၁၇ သန်း (အမေရိကန်ဒေါ်လာ ၃.၉၉ သန်း အပါအဝင် စုစုပေါင်းကျပ် သန်း ငါးထောင် ရှစ်ရာ သုံးဆယ့် ခြောက်သန်းနှင့် တစ်သိန်း ခုနစ်သောင်းခန့်)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ ၃ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့် သက်တမ်း ၃၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည် Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)

14.2.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(သ)/ခ-၀၀၁/၂၀၁၈ ( ၀၄၈ -၈ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်

အကြောင်းအရာ။ **Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)၏ လမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ခွင့်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ၈-၁၁-၂၀၁၇ ရက်စွဲပါစာအမှတ်၊ (သစ်တော) ၄(၁)/၀၉(ဈ)(၂)/(၂၁၈၅/၂၀၁၇)

၁။ Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) မှ မွန်ပြည်နယ်၊ သထုံခရိုင်၊ ပေါင်မြို့နယ်၊ ကုလားမတောင်ကြိုးဝိုင်း၊ အကွက်အမှတ်(၅၉)ရှိ မြေ ၅၀ ဧကတွင် လမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Shwe Myint Mo Tun Stone Manufacturing Co., Ltd.(ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)အား လမ်းခင်းကျောက် အမျိုးမျိုးတူးဖော်၊ ထုတ်လုပ်၊ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၀၅၈/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက်ရမည်-

(က) Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်း လမ်းခင်း ကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ

ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၂) အရ မြေအသုံးပြုခွင့် နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၈)၊ ပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Shwe Myint Mo Tun Stone Manufacturing Co., Ltd.(ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း(၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)တို့ကို သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့်အညီ ဆောင်ရွက်ရမည်။

(င) Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက် ထုတ်လုပ်ရေးကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူ သည် နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ

အသေးစိတ်များ ပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်) ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေအသုံးပြုခွင့်နှင့်ပတ်သက်၍ မြေအသုံးချမှုပြောင်းလဲခြင်း လုပ်ငန်းစဉ်အား သက်ဆိုင်ရာ ဥပဒေနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်ပြီးပါက ကော်မရှင်သို့ ပြန်လည် တင်ပြသွားရမည်။

၄။ Shwe Myint Mo Tun Stone Manufacturing Co., Ltd. (ရွှေမြင့်မိုရ်ထွန်းလမ်းခင်းကျောက်ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြား လိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅) စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

19.2.18

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**Shwe Myint Mo Tun Stone Manufacturing Co., Ltd.**

**(ရွှေမြင့်မိုရ်ထွန်း လမ်းခင်းကျောက် ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်)**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန